လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၁/မ-၉၂၆/၉၈(၁၁၁၄)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ နိုဝင်ဘာလ ၅ ရက် ။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ ရွှေသရဝဏ် ရှေ့ဆောင် ရေလုပ်ငန်း ကုမ္ပဏီလီမိတက် ဘည်ထောင်၍ရေခဲထုတ်လုပ်ခြင်းနှင့်ငါး၊ပုစွန်ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ရွှေသရဝဏ် ရှေ့ဆောင် ရေလုပ်ငန်းကုမ္ပဏီ လီမိတက် ( Shwe Tharawun Shae Hshaung Fishery Co., Ltd. ) တည်ထောင်၍ ရေခဲထုတ်လုပ်ခြင်း နှင့်ငါး ၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ( ၂၃-၁၀-၉၈ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၉/၉၈ ) ကြိမ်မြောက်အစည်းအဝေး သို့တင်ပြခဲ့ရာ၊ ယင်းအစည်းအဝေး မှလုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရှေ့ဆိုင်း ငွေပေးချေခြင်း စနစ်သဘောတူစာချုပ် ( မူကြမ်း )ကို နောက်ဆက်တွဲ ( ၁ ) အဖြစ် ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၉၄၄) သန်း အပါအဝင် စုစုပေါင်း ကျပ်(၄၄.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသား ကျပ် (၀.၈၃) သန်း ၊ စက်ပစ္စည်း ကိရိယာတန်ဖိုး ကျပ် (၂၄.၁၀) သန်း [အမေရိကန်ဒေါ်လာ (၀.၈၃၅) သန်း အပါအဝင်]၊ အဆောက်အဦတန်ဖိုး ကျပ် (၁၇.၂၇) သန်း [အမေရိကန်ဒေါ်လာ (၀.၁၀၉) သန်း အပါအဝင်]၊ ပရိဘောဂ နှင့်လုပ်ငန်းသုံး ပစ္စည်း တန်ဖိုး ကျပ် (၀.၄၀) သန်း နှင့်ကုန်ကြမ်း တန်ဖိုး ကျပ် (၁.၄၀) သန်း ထည့်ဝင်ရင်းနှီး မည်ဖြစ်ပါသည်။ စက်ပစ္စည်း နှင့် ဆောက်လုပ်ရေး

ပစ္စည်း များကို စင်ကာပူနိုင်ငံ PL International Pte Ltd. - မှ ရွေ့ဆိုင်း ငွေပေးချေခြင်း စနစ်ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုး နှုန်း (၃.၅) ရာခိုင်နှုန်း ဖြင့် (၃) နှစ်အတွင်း ပြန်လည် ပေး ဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်း ကို ဆောင်ရွက်ရန်ကုမ္ပဏီအမည်ဖြင့် စစ်တွေခရိုင်အေးချမ်း သာယာရေး နှင့်ဖွံ့ဖြိုး ရေး ကောင်စီမှ စက်မှုမြေအဖြစ်ချပေး ထား သော မြေကွက် အမှတ် ၁၄၆၊ ၁၄၇၊ ၁၄၈၊ ၁၄၉၊ ၁၅၀၊ ၁၅၁၊ ၁၅၂၊ ၁၅၇ နှင့် ၁၅၈၊ ဆတ်ရိုး ကျအလယ်၊ သံတော်လဲရပ်ကွက် ရှိ မြေ (၅.၆၁၅) ဧက (၂၂၇၂၃.၁၁၈ စတုရန်း မီတာ) ပေါ်တွင်အ အေး ခန်း တည် ဆောက်၍ ငါး ၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း ၊ သို လှောင်ခြင်း နှင့် ရေခဲထုတ်လုပ်ခြင်း လုပ်ငန်း ကို ဆောင်ရွက် မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်း မှ ရေခဲကိုပြည်တွင်း ၌သာ ရောင်း ချမည်ဖြစ်ပါသည်။ ငါး ကိုပြည်တွင်း (၉၀) ရာခိုင်နှုန်း နှင့်ပြည်ပသို့ (၁၀) ရာခိုင်နှုန်း တင်ပို့မည်ဖြစ်ပြီး ပုစွန်ကိုမူ ရာခိုင်နှုန်း ပြည့်ပြည်ပသို့တင်ပို့မည်ဖြစ်ပါသည်။ နှစ်စဉ်ထုတ်လုပ်မှုနှင့်ရောင်း ဈေး နှုန်း မှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | ပြည်တွင်း | | ပြည်ပ | |
|---|---|---|---|---|---|---|
| | | | ထုတ်လုပ်မှု | ရောင်းဈေး (ကျပ်) | ထုတ်လုပ်မှု | ရောင်းဈေး ( US$ ) |
| ၁ | ရေခဲ(ပေါင် ၃၀၀ တုံး) | တုံး | ၆၇၅၀၀ | ၃၀၀ | - | - |
| ၂ | ငါး | တန် | ၄၃၂၀ | ၃၀၆၂၀၀ | ၄၈၀ | ၂၀၀၀ |
| ၃ | ပုစွန် | တန် | - | - | ၉၀၀ | ၇၀၀၀ |

၅။ ဤလုပ်ငန်း အတွက်လိုအပ် သော ငါး ၊ ပုစွန်ကုန်ကြမ်း များ ကိုပြည်တွင်း မှ ဝယ်ယူ မည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်း ကို ဆောင်ရွက်ခြင်း ဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင် ငွေနှင့် အသုံး စရိတ်ခန့်မှန်း ခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(ကျပ်သန်း )

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၅၆၈.၀၃ | ၄၃.၅၆ | ၁၆၁၁.၅၉ |
| (ခ) အသုံး စရိတ် | ၁၆၀၀.၉၄ | ၁၁.၀၀ | ၁၆၁၁.၉၄ |
| (ဂ) အသါးတင်အမြတ်/အရှုံး | (-)၃၂.၉၁ | ၃၂.၅၆ | (-) ၀.၃၅ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ်ဝန်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | |
|---|---|
| (က) ဝင်ငွေခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၉၆ |
| (ခ) ပါးလုပ်ငန်းခွန် (အမေရိကန်ဒေါ်လာသန်း) | ၀.၇၃ |
| (ဂ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) | ၂.၀၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၅၀) ဦး ခန့်ထားမည်ဖြစ်ပါသည်။

၉။ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်အမိုးရမှ သတ်မှတ်မည့် စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်း၊ နိုင်ငံခြားမှ ချေးငွေရယူခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိဘဲ ငွေချေးသူ၏ တာဝန်သာဖြစ်ကြောင်း၊ ချေးငွေပြန်လည်ပေးဆပ်ရာတွင် လုပ်ငန်းမှ ရရှိသည့် တရားဝင်နိုင်ငံခြားငွေဖြင့် ပေးချေမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်စေရန် ဆောင်ရွက်ထားမည်ဖြစ်ကြောင်း၊ ပြည်ပသို့တင်ပို့ရန်ဈေးကွက်ရှိပြီးဖြစ်ကြောင်းနှင့် ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ <u>ဆုံးဖြတ်ရန်အချက်။</u>

(က) ရွှေသရဝေး ရွှေဆောင် ရေလုပ်ငန်း ကုမ္ပဏီလီမိတက်မှ ရေခဲထုတ်လုပ်ခြင်း ၊ ငါး ၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိုခွင့် ပြုရန်သဘောတူ - မတူ။

(ခ) လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူပါကမြန်မာ နိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့် များကိုခံစားခွင့်ပြုရန်သဘောတူ - မတူ။

၁၃။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်။</u>

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ဗိုလ်မှူးချုပ် ပေါင်မောင်]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်
ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

<u>ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။</u>
* အေး * ၄ - ၁၁ - ၉၀